(ပြည်ထောင်စုမြန်မာနိုင်ငံတော်
(မနသ-၂)
စာအမှတ် ၁၉၈၂
နေ့စွဲ ၂၆.၁.၉၈
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ - ၁၁၂/၉၈ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၂၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးသန်းလှိုင်ဇော်

(ခ) အဘအမည် ဦးဇော်ကုံ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် MDYNW - ၀၀၆၉၇၅

(ဃ) နေရပ်လိပ်စာ အမှတ်၊ ၆ (အေ)၊ ဝင်္ဂဘာလမ်းသွယ်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဆဲဗင်းဆန်းရေးစ် ကုမ္ပဏီလီမိတက် (Seven Sun Rays Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ငါးမှုန့်စက်ရုံနှင့်ရေခဲစက်ရုံတည်ဆောက်၍ ငါးမှုန့်နှင့်ရေခဲထုတ်လုပ်ရောင်းချခြင်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ သဖြူချောင်စခန်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၁၂.၂၀)သန်း
(ကျပ်ငါးဆယ့်နှစ်သန်း နှစ်သိန်း တိတိ)

(လက်မှတ်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၂/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ ပြာသို လပြည့်ကျော် ၁၄ ရက်။
(၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၂၆ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.)သည် မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ သပြုချိုင်စခန်းရှိ မြေကွက် ၂.၁၆ ဧက (၈၇၅၀ စတုရန်းမီတာ)ကို ကနဦး (၂၅)နှစ် ငှါးရမ်း၍ ငါးမုန့်စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်၍ ငါးမုန့် နှင့် ရေခဲ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၆–၁၂–၉၇) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၉၇) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၈–၁–၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ အဖွဲ့၏ (၂/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.) အား ငါးမုန့်စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်၍ ငါးမုန့် နှင့် ရေခဲ ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ– ၁၁၂/၉၈ ကို ထုတ်ပေး လိုက်သည်။

၂။ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေ စနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

(ဃ) အထက် အပိုဒ် (က) ပါ နည်းလမ်းများဖြင့် ပြည်ပမှ ပစ္စည်းများ တင်သွင်းပြီး ပြန်လည် ပေးဆပ်သည့်အခါ ပြည်ပတင်ပို့မှုမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရန်။

၄။ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပ တင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ ငါးလုပ်ငန်း ဦးစီးဌာန နှင့် အငှားချထားခြင်း ခံရသူ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.) တို့ ချုပ်ဆိုမည့် မြေငှား သဘောတူစာချုပ် လက်မှတ် ရေးထိုးပြီးသည့် အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤ ကော်မရှင်သို့ ပေးပို့ တင်ပြရမည်။

၆။ အဆိုပါ မြေငှားရမ်းခြင်း၏ သက်တမ်း ကာလမှာ စာချုပ် စတင် အကျိုးသက်ရောက်သည့် နေ့မှစ၍ ကနဦး (၂၅)နှစ် ဖြစ်ပြီး၊ ထိုသက်တမ်း ကုန်ဆုံးပါက တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ်အထိ တိုးမြှင့် ငှားရမ်းနိုင်ရေး အတွက် အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူ တို့ နှစ်ဦးနှစ်ဘက် ညှိနှိုင်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူ ခွင့်ပြုချက်ကို ရယူရမည် ဖြစ်သည်။

၇။ နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်စတုရန်း မီတာလျှင် ကျပ် (၁၅၀)နှုန်းဖြင့် ငှားရမ်းသည့်မြေ (၈၇၅၀) စတုရန်းမီတာအတွက် တစ်နှစ်လျှင် ကျပ် (၁.၃၁၂၅)သန်းကို နှစ်စဉ် ကြိုတင်ပေးချေရမည်။

၈။ မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်ရန်နှင့် ထိုကဲ့သို့ (၅)နှစ်တစ်ကြိမ် ပြန်လည် ညှိနှိုင်းရာတွင် ယခင်ငှားရမ်းခနှုန်း၏ ၁၅ ရာခိုင်နှုန်းထက် မပိုစေဘဲ ပြန်လည်ညှိနှိုင်း သတ်မှတ်ရမည်။

၉။ ဘဏ်အာမခံကြေး ငွေကျပ် (၁.၃၅၆)သန်းကို မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့တွင် အစိုးရမှ အသိအမှတ်ပြုထားသည့် ပြည်တွင်းဘဏ် တစ်ခုသို့ ပေးသွင်းရမည်။

၁၀။ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.) သည် ငါးမှုန့်စက်ရုံနှင့် ရေခဲစက်ရုံတို့ကို သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၁၂)လအတွင်း အပြီးတည်ဆောက်ရမည်။

၁၁။ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.) သည် ငှါးရမ်းကာလ ကုန်ဆုံးချိန်တွင်ဖြစ်စေ၊ ရပ်စဲချိန်တွင်ဖြစ်စေ (၃)လအတွင်း အငှါးချထားသည့် မြေနှင့်မြေပေါ်တွင် ဆောက်လုပ် ထားသည့် အဆောက်အဦများကို ကောင်းမွန်သော အနေအထားအတိုင်း အငှါးချထားသူသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်း ပေးရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၃။ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၄။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၅။ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက် ရမည်။

၁၆။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အမိန့်အရ -

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက-၁/မ-၁၇၅/၉၇ (၁၉၀၂)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇန်နဝါရီလ ၂၆ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

လျှို့ဝှက်

၅

၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ အလုပ်သမား ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၀။ မွေးမြူရေး နှင့် ရေ လုပ်ငန်း ဝန်ကြီးဌာန။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ရေလုပ်ငန်း ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၃။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၄။ မန်နေဂျင်း ဒါရိုက်တာ၊ ဆဲဗင်း ဆန်း ရေး(စ်) ကုမ္ပဏီ လီမိတက် (Seven Sun Rays Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရှိ )
တွဲဖက်အတွင်းရေးမှူး